Dawei Shrimp Farming Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှောက်ထားလွှာ တင်ပြလာခြင်း | | ၂၉-၈-၂၀၁၈ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၃၁-၈-၂၀၁၈ | ၁၃-၉-၂၀၁၈ | |
| | - တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့ | ၃၁-၈-၂၀၁၈ | ၁၇-၉-၂၀၁၈ | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၃၁-၈-၂၀၁၈ | ၁၂-၉-၂၀၁၈ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၆/၂၀၁၈ (၃-၉-၂၀၁၈) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၃-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၁၁-၉-၂၀၁၈ | ၂၀-၉-၂၀၁၈ | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၆/၂၀၁၈ (၂၈-၉-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၀) ရက်** | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Dawei Shrimp Farming Company Limited

**လုပ်ငန်းအမျိုးအစား** ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

PAT**အကြိမ်/နေ့စွဲ** ၂၆/၂၀၁၈ (၃-၉-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး (✓)<br>မပြီး (x) | မှတ်ချက် |
|---|---|---|---|
| ၁ | ကနဦးကုန်ကြမ်းတန်ဖိုး ပြန်လည်စိစစ်ရန်။ | ✓ | |
| ၂ | GAqP (Good Aquaculture Practices) Plan နှင့် Layout Design တင်ပြရန်။ | ✓ | |

ကန့်သတ်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dawei Shrimp Farming Company Limited မှ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Dawei Shrimp Farming Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Viroj Limsnit (Thai) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Viroj Limsnit (Thai) ၃၀ %<br>Metafin S.P.A (Italy) ၃၀ %<br>Mito Seiko Co., Ltd. (Japan) ၁၅%<br>Mr. Niti Lakavisuth (Thai) ၅%<br>Mr. Siang Limsanit (Thai) ၅%<br>Mr. Chang Hong Chance @ Chang Hong Choung @ U Win Sein (Myanmar) ၁၅ % |
| | လုပ်ငန်းအမျိုးအစား | - ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကံပြင်(၂/အေ)၊ ကွင်းအမှတ်(၄၄၆)၊ ကနက်သီရိကျေးရွာအုပ်စု၊ သရက်ချောင်းမြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး |
| ၃။ | မြေအသုံးပြုခွင့် ရရှိသူ | - ဦးဝင်းစိန် (ဒါရိုက်တာ၊ Dawei Shrimp Farming Co., Ltd.) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၁၉၄.၀၀ ဧက |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ်ငှားရမ်းခ တစ်ဧကလျှင် ၂၈၀,၁၅၅ ကျပ် |
| | မြေငှားရမ်း အသုံးပြုခွင့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - **အမေရိကန်ဒေါ်လာ ၁၂.၉၈၇ သန်း** |

ကန့်သတ်

ထည့်ဝင်သည့်အမျိုးအစား

| အကြောင်းအရာ | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၃.၃၇၀ | | ၃.၃၇၀ |
| စက်ပစ္စည်း | ၂.၉၉၉ | | ၂.၉၉၉ |
| မြေငှားခ | | ၁.၉၄၈ | ၁.၉၄၈ |
| ကုန်ကြမ်း | ၄.၃၄၉ | | ၄. ၃၄၉ |
| အဆောက်အဦ | ၀.၃၂၁ | | ၀.၃၂၁ |
| စုစုပေါင်း | ၁၁.၀၃၉ | ၁.၉၄၈ | ၁၂.၉၈၇ |

၇။ ဝန်ထမ်းအင်အား - **၁၀၄ ဦး**

ပြည်တွင်း - ၉၄ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၂၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ် ပါသည်။)

ပြည်ပ - ၁၀ ဦး (ပြည်ပဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာUS$ ၁,၅၀၀ ဖြစ်ပြီ အမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် -ပြည်ပ ၈၀%၊ ပြည်တွင်း ၂၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | ပြည်ပ ၈၀% | | ပြည်တွင်း ၂၀% | |
|---|---|---|---|---|---|
| | | အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) | အရေအတွက် (Ton) | ရောင်းဈေးနှုန်း (ကျပ်(၀၀၀)/Ton) |
| ၁ | Shrimp Crop (1) | ၆၇၂ | ၅,၅၀၀ | ၁၆၈ | ၇,၇၀၀ |
| ၂ | Shrimp Crop (2) | ၆၇၂ | ၅,၅၀၀ | ၁၆၈ | ၇,၇၀၀ |
| ၃ | Shrimp Crop (3) | ၆၇၂ | ၅,၅၀၀ | ၁၆၈ | ၇,၇၀၀ |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၁၀၀,၀၀၀kWh

၁၀။ အခြားတင်ပြချက် -မြေအသုံးပြုခွင့်ရရှိသူ ဦးဝင်းစိန်နှင့် Dawei Shrimp Farming Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ အဆောက်အဦပုံစံ၊ တည်နေရာပြမြေပုံ၊ MOA, AOA၊ ကုမ္ပဏီမှတ်ပုံတင်ကတ် မိတ္တူနှင့် Joint Venture Agreement (မူကြမ်း)တို့ကို တင်ပြထားပါသည်။

| | | | |
|---|---|---|---|
| | | | - ဦးဝင်းစိန်မှ ပုစွန်မွေးမြူရေးလုပ်ငန်းလုပ်ကိုင်ရန်အတွက် အသုံးပြုခွင့်လျှောက်ထားခြင်းအပေါ် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ လုပ်ငန်းနှင့်ဆက်စပ်ဌာနများဖြစ်သော လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနနှင့် ခရိုင်ထွေထွေအုပ်ချုပ်ရေးဦးစီးဌာနများသို့ သဘောထား တောင်းခံထားဆဲဖြစ်ပါကြောင်းနှင့် သက်ဆိုင်ရာဌာနများမှ သဘောထားများပြန်လည်တင်ပြလာပါက အမြန်ပြန်ကြားပေးမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>- မြေအထောက်အထားအဖြစ် ပုစွန်မွေးမြူရေး လုပ်ငန်းလုပ်ကိုင်ရန်အတွက် ဦးဝင်းစိန်မှ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများတွင် လုပ်ပိုင်ခွင့်/အသုံးပြုခွင့် လျှောက်ထားခြင်းအပေါ် တနင်္သာရီတိုင်းဒေသကြီး၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးလုပ်ငန်း အဖွဲ့မှ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ တင်ပြထားသည့်စာကို တင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ Passport နှင့် မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံတွင် Dawei Shrimp Farming Company Limited အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၂၅-၄-၂၀၁၈ ရက်စွဲဖြင့် US$ ၃၉၉,၉၈၈.၄၀ နှင့် ကျပ် ၄၄,၁၁၁,၆၃၃.၀၀ ရှိကြောင်း တင်ပြထား ပါသည်။<br>- Mitoseiko Corporation ၏ Corporate Profile များအား တင်ပြ ထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန်(၁)တွင် ပါဝင်ပြီး ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0321,0322 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၂၈/၂၀၁၈( ၄၅၅ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dawei Shrimp Farming Company Limited မှ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ Mr. Viroj Limsnit မှ ၃၀ %၊ Mr. Niti Lakavisuth မှ ၅%၊ Mr. Siang Limsanit မှ ၅%၊ အီတလီနိုင်ငံ Metafin S.P.A Co., Ltd မှ ၃၀ %၊ ဂျပန်နိုင်ငံ Mito Seiko Co., Ltd. မှ ၁၅% နှင့် မြန်မာနိုင်ငံ Mr. Chang Hong Chance @ Chang Hong Choung @ U Win Sein မှ ၁၅ % အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Dawei Shrimp Farming Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ သရက်ချောင်းမြို့နယ်၊ ကနက်သီရိကျေးရွာအုပ်စု၊ ကွင်းအမှတ် (၄၄၆)၊ ကံပြင်(၂/အေ)ရှိ မြေ(၁၉၄.၀၀)ဧကအား ငှားရမ်း၍ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအသုံးပြုခွင့်ရရှိသူ ဦးဝင်းစိန်နှင့် Dawei Shrimp Farming Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်း စာချုပ် (မူကြမ်း)၊ အဆောက်အဦပုံစံ၊ တည်နေရာပြမြေပုံ၊ MOA, AOA၊ ကုမ္ပဏီမှတ်ပုံတင်ကတ် မိတ္တူနှင့် Joint Venture Agreement (မူကြမ်း)တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၅၀ နှစ် ဖြစ်ပါသည်။ မြေဧရိယာ ၁၉၄.၀၀ ဧက အတွက် တစ်နှစ် ငှားရမ်းခမှာ တစ်ဧကလျှင် ၂၈၀,၁၅၅ ကျပ် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၂.၉၈၇ သန်း ဖြစ်ပါသည်။ ပြည်ပမှ စက်ပစ္စည်းတန်ဖိုးအမေရိကန်ဒေါ်လာ ၂.၉၉၉ သန်းနှင့် ကနဦးကုန်ကြမ်း (Nauplii, Shrimp Food) တန်ဖိုး အမေရိကန် ဒေါ်လာ ၄.၃၄၉ သန်း တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၉၄)ဦးနှင့် ပြည်ပဝန်ထမ်း (၁၀) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၁၀၄ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာUS$ ၁,၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုစွန်များအား ပြည်ပ ၈၀% နှင့် ပြည်တွင်း ၂၀%ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ပြည်ပ ၈၀% | | ပြည်တွင်း ၂၀% | |
|---|---|---|---|---|---|
| | | အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) | အရေအတွက် (Ton) | ရောင်းဈေးနှုန်း ကျပ် (၀၀၀)/ Ton |
| က | Shrimp Crop (1) | ၆၇၂ | ၅,၅၀၀ | ၁၆၈ | ၇,၇၀၀ |
| ခ | Shrimp Crop (2) | ၆၇၂ | ၅,၅၀၀ | ၁၆၈ | ၇,၇၀၀ |
| ဂ | Shrimp Crop (3) | ၆၇၂ | ၅,၅၀၀ | ၁၆၈ | ၇,၇၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဌာနများမှ သဘောထားများ တင်ပြလာပါက အမြန်ပြန်ကြားပေးမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံတွင် Dawei Shrimp Farming Company Limited အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၂၅-၄-၂၀၁၈ ရက်စွဲဖြင့် US$ ၃၉၉,၉၈၈.၄၀ နှင့် ကျပ် ၄၄,၁၁၁,၆၃၃.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်နှင့် CSR Project တို့ကို တင်ပြ ထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၆/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0321,0322 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၁)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အဆိုပြုချက်နှင့်စပ်လျဉ်း၍ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ ၂၀၁၈ခုနှစ် စက်တင်ဘာလ ၁၄ရက်နေ့နောက်ဆုံးထား၍ သဘောထားပြန်ကြားပေးရန်တောင်းခံခဲ့ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၊ ခရိုင်ထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအပါအဝင် ဆက်စပ်ဌာနများသို့ သဘောထား တောင်းခံထားဆဲဖြစ်ပါကြောင်းနှင့် ယင်းဌာနများမှ သဘောထားများ ပြန်လည်တင်ပြလာပါက အမြန်ပြန်ကြားပေးမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ရရှိမှသာ ခွင့်ပြုမိန့်ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dawei Shrimp Farming Company Limited မှ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

Dz 13
25/9/18

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
ထားဝယ်မြို့

နောက်ဆက်တွဲ (က)

MIC 313 24/9

စာအမှတ်၊ ၆၉၈၅/၄၀၀(၁)/၂၀-၁/ အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၂၅ ရက်

သို့

ညွှန်ကြားရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁.၈.၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၂၈/၂၀၁၈(၄၀၂)

D. 14886 20.9.18

၁။ ထိုင်းနိုင်ငံမှ Mr. Viroj Limsnit မှ (၃၀%)၊ Mr. Niti Lakavisuth မှ (၅%)၊ Mr. Siang Limsanit မှ (၅%)၊ အီတလီနိုင်ငံ Metafin S.P.A Co., Ltd မှ (၃၀%)၊ ဂျပန်နိုင်ငံ Mito Seiko Co., Ltd မှ (၁၅%)နှင့် မြန်မာနိုင်ငံ Mr. Chang Hong Chance@Chang Hong Choung@U Win Sein မှ (၁၅%)ဖြင့် အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Dawei Shrimp Farming Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ သရက်ချောင်းမြို့နယ်၊ ကနက်သီရိကျေးရွာအုပ်စု၊ ကွင်းအမှတ်(၄၄၆)၊ ကံပြင်(၂)ရှိ မြေဧရိယာ(၁၉၄.၀၀)ဧကအား ငှားရမ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုစွန်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာသဖြင့် သဘောထားမှတ်ချက်အား ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ(၁၄)ရက်နေ့ နောက်ဆုံးထား၍ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ အထက်အပိုဒ်(၁)ပါအဆိုပြုတင်ပြလာသည့် ဆောင်ရွက်မည့်လုပ်ငန်းနှင့် ဆက်စပ်ဌာနများဖြစ်သည့် တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန၊ တိုင်းဒေသကြီးငါးလုပ်ငန်းဦးစီးဌာန၊ တိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနနှင့် ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနများသို့ သဘောထားတောင်းခံထားဆဲ ဖြစ်ပါကြောင်းနှင့် သက်ဆိုင်ရာဌာနများမှ သဘောထားများ ပြန်လည်တင်ပြလာပါက အမြန်ပြန်ကြားပေးမည်ဖြစ်ပါကြောင်း ကြားဖြတ်အစီရင်ခံအပ်ပါသည်။

ဝန်ကြီးချုပ်( လှမြသော် )
( မြင့်စန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီး)

မိတ္တူကို
လက်ခံစာတွဲ/မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/၂၀၀၀/ မွေးရေကျေး( ၄၅၈ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၁၃ ရက်

သို့
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-ဝ၂၈/ ၂၀၁၈ (၄၀၃)

၁။ Dawei Shrimp Farming Company Limited သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ သရက်ချောင်းမြို့နယ်၊ ကနက်သီရိကျေးရွာအုပ်စု၊ ကွင်းအမှတ် (၄၄၆)၊ ကံပြင် (၂) ရှိ မြေ (၁၉၄) ဧကတွင် ပုစွန်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုနိုင်ရေး MIC သို့ တင်ပြခြင်းအပေါ် စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီး၊ ငါးလုပ်ငန်းဦးစီးဌာနမှ စစ်ဆေးရေးအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ပြီး တွေ့ရှိချက်များအား အောက်ပါအတိုင်း တင်ပြလာပါသည်-

(က) လျှောက်ထားမြေသည် မြေလွတ်မြေရိုင်းဖြစ်ပြီး ဒီရေရောက်ဖုံအတွင်းကျရောက်ပြီး လမုပင်များ ပေါက်ရောက်လျှက် ရေငန်ရောက်သဲဆန်သော ရွှံ့စေးမြေအမျိုးအစားဖြစ်ကြောင်း၊

(ခ) အရည်အသွေးမြင့် မျိုးကောင်းမျိုးသန့် ပုစွန်ဖြူသားပေါက်များအား ထိုင်းနိုင်ငံမှ တင်သွင်းပြီး ထိုင်း/ ဂျပန် ပေါင်းစပ်ပါဝင်သော နည်းပညာများ၊ ကောင်းမွန်သော ရေသတ္တဝါမွေးမြူရေးကျင့်စဉ် (GAqP) စနစ်ကျင့်သုံး၍ ခေတ်မီနည်းစနစ်များ၊ အဆင့်မြင့်မွေးမြူနည်းစနစ်များဖြင့် ကန်ကြပ်မွေးမြူသွားမည်ဖြစ်ကြောင်း၊

(ဂ) ရေငန်ပုစွန်မွေးမြူပြီး (၂)နှစ်ခန့်အကြာ ပုစွန်အစာစပ်စက်ရုံတည်ဆောက်၍ ထုတ်လုပ်ဖြန့်ဖြူး သွားမည်ဖြစ်ကြောင်း၊

(ဃ) ပုစွန်ကန်မှ ရေဟောင်းနှင့် အညစ်အကြေးများအား ပင်လယ်ပြင်သို့ စွန့်ထုတ်ခြင်းမပြုဘဲ မြေသားကန်ဖြင့် Waste water treatment ပြုလုပ်၍ စွန့်ထုတ်ရန် စီစဉ်ထားပါကြောင်း၊

(င) စံချိန်စံညွှန်းနှင့်အညီ မွေးမြူထုတ်လုပ်သော ရေငန်ပုစွန်များ၏ (၂၀%) အား ဒေသတွင်း၊ ပြည်တွင်း စားသုံးဖြန့်ဖြူးသွားမည်ဖြစ်ပြီး ထုတ်လုပ်မှု၏ (၈၀%) အား နိုင်ငံခြားဈေးကွက် ထိုင်းနိုင်ငံသို့ တင်ပို့ရောင်းချသွားမည်ဖြစ်ကြောင်း၊

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၏ မျှော်မှန်းချက်ဖြစ်သော ငါးလုပ်ငန်းများ ရေရှည်ဖွံ့ဖြိုးတိုးတက်လာစေရန်အတွက် ဖမ်းဆီးမှုအပိုင်းတွင် လျော့နည်းလာသော ငါးသယံဇာတများနေရာ၌ ပုစွန်မွေးမြူခြင်းဖြင့် ပြန်လည်ဖြည့်တင်းနိုင်မည်ဖြစ်ခြင်း၊ နိုင်ငံခြားဝင်ငွေများ တိုးတက်ရရှိလာစေနိုင်ခြင်း၊ ဒေသခံကျေးလက်နေ ပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများရရှိ၍ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်လာစေနိုင်ခြင်းတို့ကြောင့် တနင်္သာရီတိုင်းဒေသကြီး၊ သရက်ချောင်းမြို့နယ်ရှိ မြေ (၁၉၄) ဧကအား Dawei Shrimp Farming Company Limited မှ ငှားရမ်း၍ ပုစွန်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းအပေါ် ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
လှထွန်း၊ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၈၇၂၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Dawei Shrimp Farming Company Limited မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍သဘောထားမှတ်ချက်ပြန် ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၂၈/ ၂၀၁၈(၄၀၁)

၁။ ထိုင်းနိုင်ငံ Mr. Viroj Limsnit မှ ၃၀%၊ Mr. Niti Lakavisuth မှ ၅%၊ Mr. Siang Limsanit မှ ၅%၊ အီတလီနိုင်ငံ Metafin S.P.A Co., Ltd. မှ ၃၀%၊ ဂျပန်နိုင်ငံ Mito Seiko Co., Ltd. မှ ၁၅% နှင့်မြန်မာနိုင်ငံMr. Chang Hong Chance @ Chang Hong Choung @ U Win Sein မှ ၁၅% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင်တည်ထောင်ထားသည့် Dawei Shrimp Farming Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ သရက်ချောင်းမြို့နယ်၊ ကနက်သီရိကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၄၄ဖ၊ ကံပြင်- ၂၊ ရှိမြေ ၁၉၄.၀၀ ဧက (၇၈၅,၀၉၀.၀၆ စတုရန်းမီတာ) ကိုငှားရမ်း၍ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၇၈၅,၀၉၀.၀၆ စတုရန်းမီတာ) ပေါ်တွင်စုစုပေါင်း (၁၆၇၉၂ စတုရန်းပေ)ရှိ သိုလှောင်ရုံနှင့်ရုံးခန်းတည်ဆောက်ကာ လုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ပုဇွန်မွေးမြူထုတ်လုပ်ကာ ပြည်ပသို့တင်ပို့ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Dawei Shrimp Farming Company Limited မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် တည်ဆောက်ပြင်ဆင်ရေး လုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် ထွက်ရှိလာမည့် ဖုန်မှုန့်နှင့်မြေသားအမှုန်၊ အမွှားများကြောင့် ပတ်ဝန်းကျင်လေထု ညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) လုပ်ငန်းများ လည်ပတ်ဆောင်ရွက်ပါက အအေးခန်းများမှထွက်ရှိလာမည့် ငါး၊ ပုစွန် အစအနများ၊ စွန့်ပစ်ရေဆိုးများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သော ပြည်သူလူထုကို အနှောင့်အယှက်ဖြစ်စေခြင်း၊

(ဃ) အအေးခန်းသိုလှောင်ရုံများတွင် အသုံးပြုမည့် လေအေးပေးစက်များနှင့် ရေခဲစက်များမှ ထွက်ရှိလာမည့် Green House Gas-GHG များကြောင့် ကမ္ဘာ့ကြီးအပူချိန်မြင့်မားမှုနှင့်အိုဇုန်းလွှာ ထိခိုက်ပျက်စီးမှုစသည့် ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Dawei Shrimp Farming Company Limited မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဈ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ တနင်္သာရီတိုင်းဒေသကြီး
ရုံးလက်ခံ